# ရောဝတီတိုင်း ရင်းနှီးမြှုပ်နှံမှုကော်မတီ

# အစည်းအဝေးအမှတ်စဉ် (၁/ ၂၀၁၈)သို့

# A A QSR Co., Ltd မှ

# နိုင်ငံတကာအဆင့်မီ

# ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းနှင့်

# ပတ်သက်၍ တင်ပြခြင်း

Myanmar Investment Commission

Date 16-3-2018

- ကုမ္ပဏီအမည် - အေ အေ ကယူအက်(စ်) အာ ကုမ္ပဏီလီမိတက်
- ကုမ္ပဏီတည်နေရာ - အမှတ် (၄၀၈/၄၁၀)၊ ပထမထပ်၊ မဟာဗန္ဓုလလမ်းနှင့် ၃၅-လမ်းဒေါင့်၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။
- စီမံကိန်းတည်နေရာ - ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ် (၃)ရပ်ကွက်၊ အကွက်အမှတ်-၁၉၈၆/င ဆော်ကွင်း၊ ဦးပိုင်အမှတ် - N - ၆၂ ရှိ မြေ (၃.၅၄)ဧက
- လုပ်ငန်းအမျိုးအစား - နိုင်ငံတကာအဆင့်မီ ဟိုတယ်အဆောက်အဦးနှင့် ဘန်ဂလိုများ တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း

# မြေပိုင်ဆိုင်မှု



မြေစာရင်းပုံစံ – ၁၀၅

2015 - 0403932

မှန်ကန်ကြောင်း သက်သေခံ / သက်သေမခံ သော လက်ရှိမြေပုံတွင် ယခုနှစ်အသုံးပြုသော ဦးပိုင်မြေပုံ လက်ခံရေးကူးရန်ပုံစံ

ရုံးခွန်တံဆိပ်ခေါင်းကပ်ရန်

၃၀၀ကျပ် K 300

| | |
|---|---|
| တိုင်းဒေသကြီး/ ပြည်နယ် | [illegible] |
| ခရိုင် | ပုသိမ် |
| မြို့နယ်/ မြို့နယ်ခွဲ | ငွေဆောင် |
| ရပ်ကွက်/ ကျေးရွာအုပ်စု | [illegible] |
| ကွင်း/ အကွက်အမှတ်နှင့်အမည် | [illegible] |
| ဦးပိုင်အမှတ်/ မြေကွက်အမှတ် | [illegible] |



| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ ပိုင်ရှင်/ ဂရန်ရှင်/ အငှားဂရန်ရှင် အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်း | ဧရိယာ (ဧက) | မှတ်ချက် |
|---|---|---|---|---|---|
| [illegible] | [illegible] | [illegible] | [illegible] | [illegible] | [illegible] |

| | |
|---|---|
| ရေးကူးပေးသည့်အကြောင်းအရာ | [illegible] |

(အထက်ဖော်ပြပါအကြောင်းအရာအတွက်သာ အသုံးပြုခွင့်ရှိသည်။)

လျှောက်ထားသူအမည် – [illegible]

လျှောက်လွှာတင်သည့်နေ့စွဲ – [illegible]

လျှောက်ထားသူသို့ ထုတ်ပေးသည့်နေ့စွဲ – [illegible]

ယခုအထက်တွင် ပြဆိုသောမြေပုံမှာ မှန်ကန်သေချာစွာ ရေးကူးထားသော ( ၂၀၁၆ ) ခုနှစ် အတွက် နောက်ဆက်တွဲတိုင်းတာခြင်း မြေပုံဖြစ်ကြောင်း သက်သေခံလက်မှတ် ရေးထိုးပါသည်။

အမှုတွဲထိန်း/မြေတိုင်းစာရေးလက်မှတ် –

နေ့စွဲ – [illegible]

# မြေပိုင်ဆိုင်မှု

ပုံစံ−၁၅(က)

**တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်အစိုးရအဖွဲ့**
**လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်**

ရန်ကုန်တိုင်းဒေသကြီး၊စမ်းချောင်းမြို့နယ်၊ မြေနီကုန်း၊အမှတ်(၁၂/၃-ဘီ)နေ ဦးဇော်ဝင်း၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ်၊ ၁၂/စခန(နိုင်) ၀၂၂၉၃၂ နှင့် ဦးသန်းဝင်းအောင်၊ နိုင်ငံသားစိစစ်ရေးကဒ်အမှတ်၊ ၁၂/မကထ(နိုင်) ၀၀၈၈၄၈ အား လယ်ယာမြေ ဥပဒေပုဒ်မ ၂၉ နှင့် ၃၀ တို့ အရ အောက်ဖော်ပြပါ လယ်မြေမှတစ်ပါး လယ်ယာမြေကို သတ်မှတ်ထားသည့် စည်းကမ်းချက်များနှင့်အညီ အခြားနည်းဖြင့် အသုံးပြုခွင့်ပြုလိုက်သည်။

**အခြားနည်းအသုံးပြုခွင့်ပြုသည့် လယ်မြေမှတစ်ပါး လယ်ယာမြေအကြောင်းအရာ**
**ရောဝတီတိုင်းဒေသကြီး ၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့**

| စဉ် | ရပ်ကွက်/ ကျေးရွာ အုပ်စု | ကွင်း/အကွက် အမှတ်နှင့် အမည် | ဦးပိုင် အမှတ် | မြေမျိုး | ခွင့်ပြုသည့် ဧရိယာ | | ခွင့်ပြုသည့်နည်းလမ်း | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| | | | | | ဧက | ဒသမ | | |
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | | ၈ | ၉ |
| ၁ | အမှတ်(၃) ရပ်ကွက် | ၁၉၈၆ ငဆော်ကွင်း | N-၆၂ | ဥယျာဉ် | ၃ | ၅၄ | ဟိုတယ်မြေ | |

သက်သေခံမြေပုံပူးတွဲထားပါသည်။

ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ (၁-၉-၂၀၁၅)ရက်နေ့ အစည်းအဝေးအမှတ်စဉ် (၁၉/၂၀၁၅) ၊ ဆုံးဖြတ်ချက်အမှတ်(၃၆)နှင့် ရောဝတီတိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၁-၉-၂၀၁၅)ရက်နေ့အစည်းအဝေးအမှတ်စဉ်(၅/၂၀၁၅)၊ဆုံးဖြတ်ချက်(၄)တို့အရ လက်မှတ်ရေးထိုး ထုတ်ပေးခြင်းဖြစ်သည်။

အတွင်းရေးမှူး
ရောဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့
ပုသိမ်မြို့

စာအမှတ်၊ ၅၀၀/၄-၁(၁၇၇)အစိုးရ(ရောဝတီ)/ထောက်၁
ရက်စွဲ ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂ ရက်

# စည်ပင်ခွင့်ပြုမိန့်

ငွေဆောင်မြို့ စည်ပင်သာယာရေးကော်မတီ
အင်ဂျင်နီယာဌာန
အဆောက်အဦဆောက်လုပ်ခွင့်အမိန့်

အမှတ် - ၇ /(၂၀၁၅-၂၀၁၆)
၂၀၁၆ ခု ဖေဖော်ဝါရီ လ ၉ ရက်

ငွေဆောင် ---- မြို့ အမှတ် ( ၃ )ရပ်ကွက်နယ်မြေ ---- မြို့ဖ ---- လမ်း၊ အမှတ် ---- နေ
ဦး/ဒေါ် သန်းထင်အောင်+ဦးဆွေဝင်း၊ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ဓခန(နိုင်)၁၁၂၂၉၃၂ ---- ၏
၁၂ -၁၀- ၂၀၁၅ ရက်စွဲပါ လျှောက်ထားချက်အား ပူးတွဲပါအိမ်ပုံစံအရ အဆောက်အဦကို အသစ်/ပြင်ဆင်/တိုးချဲ့
ဆောက်လုပ်ခွင့်ပြုသည်။

မြေကွက်အလား လေးရပ်

| | | | |
|---|---|---|---|
| အရှေ့ | ဒေါ်ဖျူစိုး ၄၁၁၇၈၁ ကုန်းဖြူ | အနောက် | ပင်လယ် |
| မြောက် | ဦးသန်းမြင့်ဦး | မြောက် | ဦးမျိုးဝင်းဟန် |

လိုက်နာရန်စည်းကမ်းချက်များ

၁။ မြို့စည်ပင်သာယာရေးကော်မတီမှ အကည်ပြုပေးသော အိမ်ပုံစံအရသာလျှင် (၆)လအတွင်း ပြီးစီးအောင် ဆောက်လုပ်ရမည်။(၆)လအတွင်း မပြီးနိုင်ပါက သက်တမ်းမကုန်မီ (၁၅)ရက်ကြိုတင်၍ သက်တမ်းတိုးမြှင့်ပေးရန် လျှောက်ထားရမည်။

၂။ အိမ်ဆောက်လုပ်ရန်အတွက် ပန္နက်ရိုက်သည့်အခါတွင် အဖွဲ့အင်ဂျင်နီယာအား အကြောင်းကြားရမည်။

၃။ ဆောက်လုပ်မည့်အဆောက်အအုံနှင့် ယင်းအဆောက်အအုံဆောက်လုပ်မည့် မြေနေရာ၏ နယ်နိမိတ် အမှတ် အသားစပ်ကြားတွင် အောက်ပါအတိုင်းမြေကွက်လပ် ရှိစေရမည် -

| | | ရှေ့နောက်မြေအကျန် | ဘေးမြေအကျန် |
|---|---|---|---|
| (က) | တစ်ထပ်အဆောက်အအုံ | ၃ ပေ | ၃ ပေ (အနည်းဆုံး) |
| (ခ) | နှစ်ထပ်အဆောက်အအုံ | ၅ ပေ | ၃ ပေ (အနည်းဆုံး) |

၄။ မိမိခြံဝင်းအတွင်းနှင့် မြေယာကွက်ပတ်ဝန်းကျင်တွင် ကျန်းမာရေးဌာနမှသတ်မှတ်သော စည်းကမ်းချက်နှင့်အညီ စင်ကြယ်အောင် ထားရှိရမည်။

၅။ ရေလောင်းအိမ်သာ (သို့မဟုတ်) ကျန်းမာရေးနှင့်ညီညွတ်သော အနံ့ကင်း ယင်လုံအိမ်သာကို အဖွဲ့မှသတ်မှတ်သည့် အကျယ်အဝန်းအရ ဆောက်လုပ်ရမည်။

၆။ ကျူးကျော်မြေ၊ အစိုးရမြေ၊ သာသနာ့မြေပေါ်တွင် မဖြစ်စေရ။

၇။ စည်ပင်သာယာရေးကော်မတီမြေပေါ်သို့ ကျူးကျော်ဆောက်လုပ်ခြင်း မရှိစေရ။ (တံစက်မြိတ်နှင့် ဆင်ဝင်အပါအဝင်)

၈။ အဆောက်အဦ ဆောက်လုပ်ပြီးသောအခါ ဤအဖွဲ့သို့ အကြောင်းကြားရမည်။

# တည်နေရာပြမြေပုံ (Google Map)



# PAT အစည်းအဝေးမှ အကြံပြုချက်အပေါ် လိုက်နာဆောင်ရွက်ထားရှိသည့်အစီအစဉ်

| စဉ် | လမ်းညွှန်ချက်များ | | ဆောင်ရွက်ပြီးစီးမှု |
|---|---|---|---|
| | ဝန်ကြီး/ ဌာန | လမ်းညွှန်ချက်/ ဆွေးနွေးချက် | |
| ၁။ | လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန | လုပ်ငန်းဆောင်ရွက်မည့်မြေနေရာနှင့် စပ်လျဉ်း၍ လယ-၃၀ ကျပြီးဖြစ်ကြောင်း မြေကိစ္စရှင်းလင်းပါကြောင်း | - လိုက်နာဆောင်ရွက်ပြီး |
| ၂။ | တိုင်းဒေသကြီးစည်ပင်သာယာရေးအဖွဲ့ | (၉.၂.၂၀၁၆)ရက်စွဲဖြင့် အဆောက်အအုံ ဆောက်လုပ်ရန် ခွင့်ပြုမိန့်ရရှိထားပြီး ဖြစ်ကြောင်း၊ တိုင်းဒေသကြီး စည်ပင်သာယာ ရေးအဖွဲ့အနေဖြင့် သီးခြားမှတ်ချက်ပေးရန် မရှိကြောင်း | - လိုက်နာဆောင်ရွက်ပြီး |
| ၃။ | ဟိုတယ်နှင့် ခရီးသွားညွှန်ကြားရေး ဦးစီးဌာန | ဟိုတယ်တည်ဆောက်ခွင့် တင်ထားပြီး ဖြစ်ပါ ကြောင်း၊ ကမ်းခြေဆိုင်ရာ လိုက်နာဆောင် ရွက်ရမည့် ကိစ္စရပ်များနှင့် ကိုက်ညီပါ ကြောင်း၊ ကန့်ကွက်ရန်မရှိပါကြောင်း | - လိုက်နာဆောင်ရွက်ပြီး |
| ၄။ | လျှပ်စစ်၊ စွမ်းအင်၊ စက်မှုလက်မှုနှင့် လမ်းပန်းဆက်သွယ်ရေး ဝန်ကြီးဌာန | Electricity Demand နှင့် ပတ်သက်၍ တိုင်းဒေသကြီး၊ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူး ရေးလုပ်ငန်း၊ တိုင်းလျှပ်စစ်အင်ဂျင်နီယာထံ သို့ တင်ပြဆောင်ရွက်သွားရန်၊ | - လိုက်နာဆောင်ရွက်ပြီး |

# PAT အစည်းအဝေးမှ အကြံပြုချက်အပေါ် လိုက်နာဆောင်ရွက်ထားရှိသည့်အစီအစဉ်

| စဉ် | လမ်းညွှန်ချက်များ | | ဆောင်ရွက်ပြီးစီးမှု |
|---|---|---|---|
| | ဝန်ကြီး/ ဌာန | လမ်းညွှန်ချက်/ ဆွေးနွေးချက် | |
| ၅။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန | EMP ရေးဆွဲတင်ပြရန်၊ ရေဆိုးနှင့် မိလ္လာ စနစ် ထည့်သွင်းဖော်ပြရန် CSR နှင့် ပတ် သက်၍ Fund တစ်ခုထားရှိဆောင်ရွက်စေ လိုကြောင်း | - လိုက်နာဆောင်ရွက်ပါမည် |
| ၆။ | အလုပ်သမားလူဝင်မှုကြီးကြပ်ရေးနှင့် ပြည်သူ့အင်အားဦးစီးဌာန | (၁) အလုပ်သမားမှတ်ပုံတင်ပြုလုပ်ရန်<br>(၂) အလုပ်ရှင်-အလုပ်သမား သဘောတူညီချက်စာချုပ် ချုပ်ဆိုရန်<br>(၃) လူမှုဖူလုံရေး ထားရှိရန်<br>(၄) လုပ်ခလစာနှင့် စပ်လျဉ်း၍ အနည်းဆုံး လုပ်ခလစာဥပဒေနှင့်အညီ ပေးချေရန် | - လိုက်နာဆောင်ရွက်ပါမည် |
| ၇။ | ပြည်တွင်းအခွန်ဦးစီးဌာန | ဝင်ငွေနှင့် အခွန်စည်းကြပ်ခြင်းဆိုင်ရာကိစ္စရပ်များ ရှင်းလင်းတင်ပြပြီး လုပ်ငန်းဆောင်ရွက်သည့် ကုမ္ပဏီများအနေဖြင့် ဧရာဝတီတိုင်းဒေသကြီးတွင် အခွန်ပေးသွင်းစေလိုကြောင်း | - လိုက်နာဆောင်ရွက်ပါမည် |

# ယခင်အစိုးရလက်ထက်ရရှိထားသည့် လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်သည့် အထောက်အထားများ






# ရင်းနှီးမြှုပ်နှံမှုပမာဏ

| | မတည်ရင်းနှီးငွေပမာဏ | ကျပ် (သန်းပေါင်း) | နိုင်ငံခြားငွေ (US$) (သန်းပေါင်း) | စုစုပေါင်းကျပ် (သန်းပေါင်း) |
|---|---|---|---|---|
| ၁။ | ငွေပမာဏ | ၂၁၅၀ | - | ၂၁၅၀ |
| ၂။ | ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်း ကရိယာများ တန်ဖိုးပမာဏ | - | ၀.၁၅ | ၂၀၄ |
| ၃။ | ပရိဘောဂနှင့် ရုံးသုံးပစ္စည်းများ တန်ဖိုး ပမာဏ | ၂၅၀ | ၀.၀၂ | ၂၇၇ |
| ၄။ | အဆောက်အဦးတန်ဖိုး + လုပ်အားခ | ၁၅၇၅ | | ၁၅၇၅ |
| ၅။ | ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများ | ၇၉၄ | | ၇၉၄ |
| | **စုစုပေါင်း** | **၄၇၆၉** | **၀.၁၇** | **၅၀၀၀** |

# ဝန်ထမ်းဦးရေ နှင့် လစာ (ကျပ်)

| စဉ် | အကြောင်းအရာ | ပြည်တွင်း | ပြည်ပ |
|---|---|---|---|
| ၁။ | ဝန်ထမ်းဦးရေ | ၁၅၉ ဦး | - |
| ၂။ | အနိမ့်ဆုံးလစာ | ၁၃၀,၀၀၀ ကျပ် | - |
| ၃။ | အမြင့်ဆုံးလစာ | ၈၀၀,၀၀၀ ကျပ် | - |

# နိုင်ငံတော်သို့ ပေးသွင်းမည့် ခန့်မှန်း ဝင်ငွေခွန် (ပထမနှစ်)

- ဝင်ငွေခွန် - ကျပ် ၃၆၃.၃ သန်း
- ကုန်သွယ်လုပ်ငန်းခွန်- ကျပ် ၁၆၀.၂ သန်း

# ဆောက်လုပ်မည့် အဆောက်အဦပုံစံများ












# လျှပ်စစ်မီး အသုံးပြုမှု လိုအပ်ချက်

လျှပ်စစ်မီး အသုံးပြုမှု လိုအပ်ချက်အတွက် (500 KVA) ကို ထရန်စဖော်မာ တပ်ဆင်အသုံးပြု၍ Generator (300 KVA), (200 KVA), (100 KVA) တစ်လုံးစီကို အရံထားရှိထားမည်ဖြစ်ပါ သည်။

# လူမှုအကျိုးပြုလုပ်ငန်း အစီအစဉ် (CSR)

- ကုမ္ပဏီမှ လူမှုရေး အကျိုးပြုလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်အတွက် အသားတင် အမြတ်၏ (၂ %) ကို သုံးစွဲရန် လျာထားပါသည်။ ငွေဆောင်မြို့နယ်အတွက် လူမှုရေး လှူဒါန်းထားမှုများကို အောက်ပါအတိုင်း လှူဒါန်းဆောင်ရွက်ထားပါသည်။

| | |
|---|---|
| ➢ - ရေဘေးအလှူငွေထည့်ဝင်လှူဒါန်းခြင်း | 100,000.00 |
| ➢ - ငွေဆောင်ကမ်းခြေဆင်း (7 ပေ x 414 ပေ) လမ်းဆောက်လုပ်လှူဒါန်းခြင်း | 14,964,060.00 |
| ➢ - ငွေဆောင်သီတဂူဆရာတော် တရားပွဲ အလှူငွေထည့်ဝင်လှူဒါန်းခြင်း | 300,000.00 |
| ➢ - မြို့မ (၃)လမ်း၊ ကွန်ကရစ်ခင်း (ပထမအကြိမ်) လှူဒါန်းခြင်း | 300,000.00 |
| ➢ - လပွတ္တာမီးဘေးအတွက် အလှူငွေထည့်ဝင် လှူဒါန်းခြင်း | 100,000.00 |
| ➢ - ငွေဆောင်ကထိန် အလှူငွေထည့်ဝင်လှူဒါန်းခြင်း | 50,000.00 |
| ➢ - မြို့မ (၃)လမ်း၊ ကွန်ကရစ်ခင်း (ဒုတိယအကြိမ်) လှူဒါန်းခြင်း | 500,000.00 |
| ➢ - မြို့မ (၃)လမ်း၊ ကွန်ကရစ်ခင်း (တတိယအကြိမ်) လှူဒါန်းခြင်း | 250,000.00 |
| **စုစုပေါင်း လှူဒါန်းခြင်း** | 16,564,060.00 |

# မီးဘေးလုံခြုံရေးအစီအစဉ်

## ၁။ ရည်ရွယ်ချက်

အေ အေ ကယူအက်(စ်) အာ ကုမ္ပဏီလီမိတက် (A A QSR Co., Ltd) သည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃) ရပ်ကွက်၊ အကွက်အမှတ်-၁၉၈၆/ငဆော်ကွင်း၊ ဦးပိုင်အမှတ် N-၆၂ ရှိ မြေ (၃.၅၄) ဧကတွင် အခန်း (၆၄)ပါ နိုင်ငံတကာအဆင့်မှီ ဟိုတယ်အဆောက်အဦးနှင့် ဘန်ဂလိုများ တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ လုပ်ကိုင်ရာတွင် မလိုလားအပ်သော မီးဘေးအန္တရာယ်ကြောင့် ငွေကြေးနှင့် အခြားဆုံးရှုံးမှုများ မဖြစ်စေရေးအတွက် ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်သွားရန် ရည်ရွယ်ပါသည်။

## ၂။ တည်နေရာ

ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ် (၃) ရပ်ကွက်၊ အကွက်အမှတ် - ၁၉၈၆/ ငဆော်ကွင်း၊ ဦးပိုင်အမှတ် - N-၆၂ရှိ မြေ (၃.၅၄)ဧက

## ၃။ လုပ်ငန်းတာဝန်

ရည်ရွယ်ချက်အား အောင်မြင်အောင် အကောင်အထည်ဖော်နိုင်ရန် အောက်ပါလုပ်ငန်းတာဝန်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း (ခ) မီးငြိမ်းသတ်ရေးလုပ်ငန်း

(ဂ) ပြန်လည် နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

## ၄။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်း

ကြိုတင်ကာကွယ်ရေးလုပ်ငန်းသည် အခြေခံအကျဆုံးနှင့် အထိရောက်ဆုံးလုပ်ငန်းဖြစ်၍ အောက်ပါ ညွှန်ကြားချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရန်နှင့် အချိန်အခါနှင့် အခြေအနေအရ ဖြည့်စွက်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားရန် ဖြစ်သည်-

(၁) မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားထားမြစ်ရန်၊

(၂) ဟိုတယ်အတွင်း မီးလောင်စေနိုင်သည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်၊

(၃) လောင်စာဆီများကို သတ်မှတ်ကန့်သတ်ချက်နည်းလမ်းအတိုင်း စနစ်တကျ သိုလှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြုခြင်းနှင့် စွန့်ပစ်ခြင်းများ ပြုလုပ်ရန်၊

(၄) လျှပ်စစ်သွယ်တန်းခြင်းကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ပြဋ္ဌာန်းချက်များ နည်းပညာများအတိုင်း တပ်ဆင်အသုံးပြုသွားရန်၊

(၅) အဆောက်အဦးတွင် မြေစိုက်ကြိုးများနှင့် မိုးကြိုးလွှဲများ တပ်ဆင်ရန်၊

(၆) မီးဘေးကြိုတင်ကာကွယ်ရေး၊ မီးငြိမ်းသတ်ရေးအဖွဲ့များ ဖွဲ့စည်းပေး၍ နည်းပညာပေးသင်တန်းများ ပို့ချ ပေးရန်၊

(၇) မီးသတ်ဆေးဗူးများ၊ မီးသတ်ရေပိုက်ခေါင်းများ၊ ရေလှောင်ကန်များ ထားရှိရန်၊

## ၅။ မီးငြိမ်းသတ်ရန် ကြိုတင်လုပ်ငန်းများ

မီးလောင်မှု မဖြစ်ပွားရေးအတွက် ကြိုတင်ကာကွယ်ရေးနှင့် မီးလောင်မှုဖြစ်ပွားလာပါက အောက်ပါအတိုင်း လုပ်ငန်းများကို စနစ်တကျ လိုက်နာဆောင်ရွက်သွားရမည်။

(၁) ဟိုတယ်အဆောက်အဦးနှင့် လိုအပ်သောနေရာတိုင်းတွင် မီးသတ်ဆေးဗူးများ၊ ရေပုံး၊ မီးသတ်ပိုက်လိုင်းများ ထားရှိရမည်။

(၂) အလိုအလျောက်မီးအချက်ပေးစနစ်နှင့် အချက်ပေးသံချောင်းများ တပ်ဆင်ရမည်။
(၃) မီးလှန့်အချက်ပေးသည့်စနစ်ကို သတ်မှတ်ထားရမည်။
(၄) မီးလောင်လျှင် ဦးစားပေး ငြိမ်းသတ်ရေးကို သတ်မှတ်ရမည်။
(၅) မီးဘေးလုံခြုံရေး ဝန်ထမ်းကို နေ့စဉ် တာဝန်ချထားရမည်။
(၆) ဟိုတယ်ဆောက်ရာတွင် အရေးပေါ်ထွက်ပေါက်များ လှေကားများကို စနစ်တကျထားရှိရမည်။
(၇) မီးလောင်မှုဖြစ်ပွားပါက အောက်ပါတို့ကို ချက်ချင်းအရေးတကြီး ပြုလုပ်ရမည်။

(က) အချက်ပေး ခေါင်းလောင်းခေါက်ခြင်း

(ခ) မီးသတ်ဦးစီးဌာနသို့ အမြန်ဆုံး မီးသတ်ကား လာရောက်ငြိမ်းသတ်နိုင်ရန် လမ်းညွှန်အကြောင်းကြားခြင်း။

(ဂ) ဦးစားပေး ပစ္စည်းများ မီးလွတ်ရာသို့ ရွှေ့ပြောင်းခြင်း။

(ဃ) မီးငြိမ်းသတ်ခြင်း။

## ၆။ ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေးလုပ်ငန်း

အကယ်၍ မီးလောင်မှုကြောင့် လူနှင့် စက်ပစ္စည်းများကို အရေးပေါ်ပြောင်းရွှေ့မှုများ ပြုလုပ်ခဲ့ရသဖြင့် ထိခိုက်မှု ဆုံးရှုံးမှုများရှိပါက တာဝန်ရှိကြီးကြပ်သူများသို့ တင်ပြ၍ နေရာချထားပေးခြင်း ဆေးပေးခန်း၊ ဆေးရုံသို့ ပို့ဆောင်၍ ဆေးကုသမှုခံယူစေခြင်းနှင့် ကူညီထောက်ပံ့မှုပေးခြင်းတို့ကို ဆောင်ရွက်ပါမည်။

## ၇။ Fire Safety Certificate ရရှိအောင် ဆောင်ရွက်ပေးပါမည်။

# ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဥ်

အေ အေ ကယူအက်(စ်) အာ ကုမ္ပဏီလီမိတက် (A A QSR Co., Ltd.) သည် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ ငွေဆောင်မြို့ အမှတ် (၃)ရပ်ကွက်၊ အကွက်အမှတ်-၁၉၈၆/ငဆော်ကွင်း၊ ဦးပိုင်အမှတ် - N - ၆၂ ရှိ မြေ (၃.၅၄)ဧကတွင် အခန်း (၆၄)ပါ နိုင်ငံတကာအဆင့်မီ ဟိုတယ်အဆောက်အဦးနှင့် ဘန်ဂလိုများ တည်ဆောက်၍ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို လုပ်ကိုင်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် အဆောက်အဦးများအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ဟိုတယ်အဆောက်ဦး ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များ မရှိအောင် ရေနုတ်မြောင်းများကို ရေးစီးရေလာ ကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါ ကြောင်းနှင့် ဟိုတယ်မှ ထွက်ရှိမည့် ရေဆိုးများကို စနစ်တကျစွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ဟိုတယ်ပတ်ဝန်းကျင် ဆူညံမှုဖြစ်ပေါ်မည်မဟုတ်ပဲ ပတ်ဝန်းကျင် ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ပါကြောင်း၊ လုပ်ငန်းမှ ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျစွန့်ပစ်မည် ဖြစ်ပါကြောင်းနှင့် ဟိုတယ်လုပ်ငန်းမှ ဖြစ်ပေါ်လာမည့် အနံ့ဆိုးများ ပျောက်ကင်းစေရန် အပင်များ စိုက်ပျိုးထားရှိမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ EMP ဆုံးဖြတ်ချက်ဖြင့် စီမံဆောင်ရွက်ပါမည်။

# ရေဆိုးစွန့်ထုတ်မှုနှင့် မိလ္လာစွန့်ပစ်မှု

- - ထွက်လာသော ရေဆိုးများကို ငွေဆောင်မြို့ စည်ပင်သာယာရေးကော်မတီ လမ်းညွှန်မှုအတိုင်း လိုက်နာဆောင်ရွက်ပါမည်။

- - မိလ္လာစွန့်ပစ်မှုအစီအစဉ်အား သယ်ယူရန်လိုအပ်မည့် ယာဉ်များကို ငွေဆောင်မြို့ စည်ပင်သာယာရေးကော်မတီထံမှ အကူအညီရယူစွန့်ပစ်မည်ဖြစ်ပါသည်။

- - အဆိုပါ လုပ်ငန်းများအတွက် ထမ်းဆောင်ပေးသွင်းရမည့် အခွန်အခများကို ပေးသွင်းဆောင်ရွက်မည်ဖြစ်ပါသည်။

# နာရေးလမ်းမရှိကြောင်း၊ ကမ်းခြေဆင်းလမ်းမရှိကြောင်း ဓါတ်ပုံအထောက်အထား (၂၀၁၄-ခုနှစ်)



ကမ်းခြေဘက်မှ မြင်ရပုံ

# နာရေးလမ်းမရှိကြောင်း၊ ကမ်းခြေဆင်းလမ်းမရှိကြောင်း ဓါတ်ပုံအထောက်အထား (၂၀၁၄-ခုနှစ်)



အကြွက္ကဝါလမ်းဘက်မှ မြင်ရပုံ

အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရုံးတံဆိပ် ရည်ညွှန်းချက်

## ခေါ်ယူအသိပေးရှင်းလင်းခြင်းမှတ်တမ်း

ရက်စွဲ၊ ၂၂-၁၁-၂၀၁၅

ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ( ၂၁ - ၁၀ - ၂၀၁၅ )ရက်စွဲပါစာအမှတ်၊ ၅၀၀၀/၄-၁(၆၆၂၉)/အစိုးရ(ဧရာဝတီ)/ထောက် ၁

၁။ ငွေဆောင်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ အင်္ဂလာဝါလမ်းကမ်းခြေရှိ ကွင်းအမှတ်(၁၉၈၆)၊ ငဆော်ကွင်းအတွင်း ဦးပိုင်အမှတ်(N၅၉+ N၆၅+ N၆၂+ N၆၃)ဧရိယာ(၄.၃၀)ဧကရှိ ဥယျာဉ်မြေအတွင်းမှ ပြဿနာကင်းရှင်းသည့် မြေဧရိယာ(၃.၅၀)ဧကခန့်ကို အပန်းဖြေကမ်းခြေစခန်းအသုံးပြုမည်ဖြစ်ပြီး ၎င်းရပ်ကွက်အတွင်းမှ ကမ်းခြေဆင်းလူသွားလမ်းအတွက် အကျယ်(၁၀)ပေကို အများပြည်သူသွားလာနိုင်ရေး လှူဒါန်းမည်ဖြစ်ပါကြောင်းခွင့်ပြုပေးနိုင်ပါရန် တင်ပြချက်နှင့်ပတ်သက်၍ လမ်းလှူဒါန်းသူ ဦးဇော်ဝင်းနှင့် ဒေါ်တင်တင်မြင့်(၂)ဦးတို့မှ လမ်းအကျယ်(၇)ပေ အရှည်(၄၁၄)ပေ၊ ဒု(၄)လက်မရှိ ကွန်ကရစ်လမ်းအား ဆောင်ရွက်ပြီးဖြစ်ပါကြောင်း (၇-၁၀-၂၀၁၅) ရက်နေ့တွင် တင်ပြလာပါသဖြင့် တိုင်းဒေသကြီးအစိုးရအဖွဲ့သို့ လိပ်မူ၍ အစီရင်ခံတင်ပြခဲ့ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့မှ တင်ပြချက်အတိုင်း ဆက်လက်ဆောင်ရွက်သွားရန်နှင့် ကာယကံရှင်များအား ရှင်းလင်းအသိပေးပြောကြားသွားရန် ရည်ညွှန်းပါစာဖြင့် ညွှန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ (၂၂-၁၁-၂၀၁၅)ရက်နေ့တွင် ငွေဆောင်မြို့အုပ်ချုပ်ရေးမှူးရုံး၌ မြို့အုပ်ချုပ်ရေးမှူးခေါင်းဆောင်သောအဖွဲ့မှ ဒေသခံရပ်မိရပ်ဖတို့ရှေ့မှောက်တွင် လမ်းလှူဒါန်းသူများဖြစ်ကြသော ဦးဇော်ဝင်းနှင့် ဒေါ်တင်တင်မြင့်(ကိုယ်စား)ဦးဇော်ဌေးဦးတို့အား ခေါ်ယူရှင်းလင်းအသိပေးခြင်းကို သိရှိပါကြောင်း အောက်တွင် လက်မှတ်ရေးထိုးပါသည်-

**လမ်းလှူဒါန်းသူ**

ဦးဇော်ဝင်း -
၁၂/စခန(နိုင်) ၀၂၂၉၄၂

ဦးဇော်ဌေးဦး - ၂၂.၁၁.15
(ဒေါ်တင်တင်မြင့်ကိုယ်စား)
၁၂/ဥကမ(နိုင်) ၂၀၉၃၈၄

**ဒေသခံရပ်မိရပ်ဖများ**

ဦးစံသိန်း -

ဦးမြင့်ဝင်း -

**ကျွန်ုပ်တို့၏ရှေ့မှောက်တွင်**

ဦးစိုးဌာနမှူး
မြို့လယ်စီ/စာရင်းဌာန
ငွေဆောင်မြို့

၂၂/၁၁/၁၅
မြို့အုပ်ချုပ်ရေးမှူး
ထွေဦးစီးဌာန
ငွေဆောင်မြို့

အမှုဆောင်အရာရှိ
မြို့စည်ပင်သာယာရေးအဖွဲ့
ငွေဆောင်မြို့

ဥက္ကဋ္ဌ
မြို့ဖွံ့/ထောက်ကော်မတီ
ငွေဆောင်မြို့

အုပ်ချုပ်ရေးမှူး
အမှတ်(၃)ရပ်ကွက်
ငွေဆောင်မြို့

# ကမ်းခြေဆင်း ၇ပေလမ်း (၄၁၄-ပေရှည်) ဆောက်လုပ်လှူဒါန်းပုံ





အ ထွေ ထွေ အုပ် ချုပ် ရေး ဦး စီး ဌာ န
ပု သိမ် မြို့ နယ် - ငွေ ဆောင် မြို့
စာ အ မှတ်၊ ၄ / ၁ - ၂ / ဦး ၄
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

## ထောက်ခံချက်

**အကြောင်းအရာ။** **လယ်ယာမြေ ဥပဒေပုဒ်မ-၃၀(ခ) လျှောက်ထားခြင်းအား ထောက်ခံတင်ပြခြင်း**

ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်ခရိုင်၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ ကွင်းအမှတ်(၁၉၈၆)၊ ငဆော်ကွင်း၊ ဦးပိုင်အမှတ် (N-၆၂)၊ ဧရိယာ (၃. ၅၄)ကေရှိ ဥယျာဉ်မြေကို ရန်ကုန်တိုင်းဒေသကြီး၊ စမ်းချောင်းမြို့နယ်၊ မြေနီကုန်း၊ အမှတ်(၁၂/၃-B)နေ ဦးဇော်ဝင်းပါ(၂)ဦးမှ လယ်ယာမြေဥပဒေပုဒ်မ-၃၀(ခ)အရ ဟိုတယ်မြေအဖြစ် အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်လျှောက်ထားခြင်းအား သက်ဆိုင်ရာ အမှတ်(၃)ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ထောက်ခံချက်၊ အမှတ်(၃)ရပ်ကွက်လယ်ယာမြေစီမံခန့်ခွဲရေးအဖွဲ့၏ကန့်ကွက်ရန်မရှိ သဘောတူညီကြောင်း အစည်းအဝေးဆုံးဖြတ်ချက် ပတ်ဝန်းကျင်နယ်လေးရပ်၏ထောက်ခံချက်များနှင့်အတူ တင်ပြလာခြင်းအပေါ် အဆိုပါမြေသည်နယ်နိမိတ်ပြဿနာမရှိခြင်း၊ မြေယာအရှုပ်အရှင်းနှင့် လက်ရှိလက်ငုတ်အငြင်းပွားမှုမရှိခြင်း၊ အဆိုပါမြေအား ဟိုတယ်မြေအဖြစ် အခြားနည်း အသုံးပြုမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ဆက်လက်ထောက်ခံအပ်ပါသည်။

၂၈ / ၂ / ၂၀၁၅
မြို့အုပ်ချုပ်ရေးမှူး
(နေအောင်နိုင်၊ ပ/၅၃၀၆)

မိတ္တူကို
လုံ့လသည်စာတွဲ
ရုံးလက်ခံ

ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ ကွင်းအမှတ်(၁၉၈၆)ငဆော်ကွင်း၊
ဦးပိုင်အမှတ်(N–၆၂)၊ ဧရိယာ(၃.၅၄)ဧကရှိ ဥယျာဉ်မြေအား ရန်ကုန်တိုင်းဒေသကြီး၊
စမ်းချောင်းမြို့နယ်၊ မြေနီကုန်း၊ အမှတ်(၁၂/၃–ဘီ)နေ ဦးဇော်ဝင်း(ပါ)(၂)ဦးမှ
အဆောက်အအုံဆောက်လုပ်ခွင့်တင်ပြလာမှုအား ကွင်းဆင်းစစ်ဆေးခြင်းမှတ်တမ်းဓါတ်ပုံ





**ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ အဏ္ဏဝါလမ်းရှိ ဦးဇော်ဝင်းပါ(၂)ဦး ပိုင်ဆိုင်သော ဧရိယာ(၃.၅၄)ဧကအတွင်း အဆောက်အဦ ဆောက်လုပ်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် ကွင်းဆင်း စစ်ဆေးချက် အစီရင်ခံစာ**

**အကြောင်းအရာ**

၁။ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ အဏ္ဏဝါလမ်းရှိ ဦးဇော်ဝင်းပါ(၂)ဦး ပိုင်ဆိုင်သော ဦးပိုင်အမှတ်(N-၆၂)၊ ကွင်းအမှတ်(၁၉၈၆)ငဆော်ကွင်း၊ ဧရိယာ(၃.၅၄)ဧကအတွင်း အဆောက်အဦ ဆောက်လုပ်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် ကွင်းဆင်းစစ်ဆေး အစီရင်ခံ တင်ပြခြင်း ဖြစ်ပါသည်။

**ကွင်းဆင်းစိစစ်ရေးအဖွဲ့ ဖွဲ့စည်းခြင်း**

၂။ အဆိုပါကိစ္စအား စိစစ်နိုင်ရေးအတွက် အောက်ပါပုဂ္ဂိုလ်များပါဝင်သော ကွင်းဆင်းစိစစ်ရေး အဖွဲ့အား (၁၆-၁-၂၀၁၆)ရက်စွဲပါစာအမှတ်၊၃/၅-၁/ဦး ၆ ဖြင့် ဖွဲ့စည်းတာဝန်ပေးအပ်ခဲ့ပါသည် -

| | | | |
|---|---|---|---|
| (က) | ဦးနေအောင်နိုင် | မြို့အုပ်ချုပ်ရေးမှူး<br>အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန | အဖွဲ့ခေါင်းဆောင် |
| (ခ) | ဦးလှိုင်ဝင်းဟန် | အမှုဆောင်အရာရှိ<br>စည်ပင်သာယာရေးအဖွဲ့ | အဖွဲ့ဝင် |
| (ဂ) | ဦးစန်းထွန်း | ဦးစီးဌာနမှူး<br>လယ်စီ/စာရင်းအင်းဌာန | အဖွဲ့ဝင် |
| (ဃ) | ဦးမြင့်ထွေး | အုပ်ချုပ်ရေးမှူး<br>အမှတ်(၃)ရပ်ကွက် | အဖွဲ့ဝင် |

**ကွင်းဆင်းစိစစ်ခြင်း**

၃။ ကွင်းဆင်းစိစစ်ရေးအဖွဲ့သည် တင်ပြပါ အဆောက်အဦ ဆောက်လုပ်မည့် မြေနေရာအား မြေအတိုင်းအတာ မှန်ကန်မှုရှိ / မရှိ၊ ပတ်ဝန်းကျင်နယ်လေးရပ် မှန်ကန်မှုရှိ / မရှိ၊ မြေနေရာ အရှုပ်အရှင်းရှိ / မရှိ၊ တင်ပြထားသော အထောက်အထားများ မှန်ကန်မှု ရှိ / မရှိတို့အား ကွင်းဆင်း စိစစ် ခဲ့ပါသည်။

**စိစစ်တွေ့ရှိချက်**

၄။ အောက်ပါအတိုင်း စိစစ်တွေ့ရှိပါသည်-

(က) ဦးဇော်ဝင်းပါ(၂)ဦးမှ အဆောက်အဦဆောက်လုပ်ခွင့်ပြုပါရန် တင်ပြလျှောက်ထားသောမြေနေရာသည် ကွင်းအမှတ်(၁၉၈၆)၊ ငဆော်ကွင်း၊ ဦးပိုင်အမှတ်(N-၆၂)၊ ဧရိယာ (၃.၅၄)ဧကအတွင်း ဖြစ်ကြောင်း၊

(ခ) ဦးဇော်ဝင်းပါ(၂)ဦးမှ အဆိုပါမြေဧရိယာအား လယ်-၃၀(ခ)အရ ပုဂ္ဂိုလ်ပိုင်မြေအဖြစ် လျှောက်ထားမှုအပေါ် ပတ်ဝန်းကျင်တောင်သူများမှ ကန့်ကွက်ရန် မရှိကြောင်း ထွက်ဆိုချက်များနှင့်အတူ အမှတ်( ၃ )ရပ်ကွက်လယ်ယာမြေစီမံခန့်ခွဲအဖွဲ့နှင့် ရပ်ကွက်အုပ်ချုပ်ရေးမှူးမှလည်း ကန့်ကွက်ရန် မရှိထောက်ခံထားပါကြောင်း၊

(ဂ) အဆိုပါမြေဧရိယာ(၃.၅၄)ဧကသည် ဦးဇော်ဝင်းအမည်ဖြင့် ( ၂ - ၉ - ၂၀၁၅)ရက်စွဲပါ စာအမှတ်၊ ၅၀၀/၄-၁(၁၇၇)အစိုးရ(ရေဝတီ)/ထောက် ၁ ဖြင့် လယ်ယာမြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် ရရှိထားပြီးဖြစ်ကြောင်း၊

(ဃ) ဦးဇော်ဝင်းပါ(၂)ဦးမှာ တင်ပြလျှောက်ထားသည့်မြေဧရိယာ(၃.၅၄)ဧကအတွင်းတွင် အလျား(၂၆)ပေ၊ အနံ(၃၁)ပေရှိ RC(၁)ထပ် ဘန်ဂလို(၁၆)လုံး၊ အလျား(၁၀၀)ပေ အနံ(၄၀) ပေ RC(၁)ထပ် ဘန်ဂလို(၁)လုံး၊ အလျား(၄၀)ပေ အနံ(၅၀)ပေရှိ RC(၁)ထပ် ဘန်ဂလို(၁)လုံး၊ အလျား(၁၁၇) ပေ အနံ(၅၀)ပေ RC(၂)ထပ် ဘန်ဂလို (၁)လုံး စုစုပေါင်းဘန်ဂလို(၁၉)လုံး ဆောက်လုပ်မည်ဖြစ်ပါကြောင်း၊

**ကွင်းဆင်းစိစစ်ရေးအဖွဲ့၏ သုံးသပ်အကြံပြုတင်ပြချက်**

၅။ အောက်ပါအတိုင်း သုံးသပ်အကြံပြုတင်ပြအပ်ပါသည် -

(က) ဦးဇော်ဝင်းပါ(၂)ဦး အဆောက်အဦဆောက်လုပ်မည့်မြေနေရာသည် ဦးဇော်ဝင်းအမည် ဖြင့် အမှန်တကယ်ပိုင်ဆိုင်မှုရှိပြီး ဟိုတယ်မြေအဖြစ် အသုံးပြုမည်ဆိုပါက ကန့်ကွက် ရန် မရှိကြောင်း ပတ်ဝန်းကျင်တောင်သူများ၏ထွက်ဆိုချက်များနှင့်အတူ အမှတ်(၃) ရပ်ကွက်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့နှင့်ရပ်ကွက်အုပ်ချုပ်ရေးမှူးတို့မှလည်းကန့်ကွက် ရန် မရှိ ထောက်ခံထားပါကြောင်း၊

(ခ) ဦးဇော်ဝင်းပါ(၂)ဦးမှ အဆိုပါမြေနေရာပေါ်တွင် အဆောက်အဦဆောက်လုပ်မည် ဆိုပါက ဟိုတယ်နှင့်ခရီးဝန်ကြီးဌာန၏ (၁-၁-၂၀၁၅)ရက်စွဲပါ အမိန့်ကြော်ငြာစာပါ စည်းကမ်းချက်များအား လိုက်နာ၍ သက်ဆိုင်ရာစည်ပင်သာယာရေးအဖွဲ့၏ လုပ်ထုံး လုပ်နည်းများနှင့်အညီ ဆောက်လုပ်မည်ဆိုပါက ကွင်းဆင်းစိစစ်ရေးအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သုံးသပ်အကြံပြုတင်ပြအပ်ပါသည်။

**ကွင်းဆင်းစိစစ်ရေးအဖွဲ့**

| | | | |
|---|---|---|---|
| (စန်းထွန်း) | (နေအောင်နိုင်) | (လှိုင်ဝင်းဟန်) | (မြင့်ထွေး) |
| ဦးစီးမှူး | မြို့အုပ်ချုပ်ရေးမှူး | အမှုဆောင်အရာရှိ | အုပ်ချုပ်ရေးမှူး |
| လယ်စီ/စာရင်းအင်းဌာန | ထွေဦးစီးဌာန | စည်ပင်သာယာရေးအဖွဲ့ | အမှတ်(၃)ရပ်ကွက် |
| ငွေဆောင်မြို့ | ငွေဆောင်မြို့ | ငွေဆောင်မြို့ | ငွေဆောင်မြို့ |

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့။
စာအမှတ်၊ ယ - ၄ / ပသ/၂၀၁၆ (၄၄၁ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇွန် လ ၃ ရက်

သို့
ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ ဟိုတယ်အဆောက်အဦ ဆောက်လုပ်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြုပေးနိုင်ပါရန် တင်ပြခြင်း

ရည်ညွှန်းချက်။ (၁) ပုသိမ်ခရိုင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ ( ၃၁ - ၅ - ၂၀၁၆ )ရက်စွဲပါစာအမှတ်၊ ၄ / ၂၄ - ၁၂/ (၇၉၉)/ ဦး - ၆

(၂) ပုသိမ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ ( ၁၇ - ၂ - ၂၀၁၆ ) ရက်စွဲပါစာအမှတ်၊ ၃/၃၄ - ၄/ ဦး - ၆

၁။ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့ အမှတ် (၃)ရပ်ကွက် ၊ မြို့မလမ်း၊ ကွင်းအမှတ် (၁၉၈၆)ဇေဆော်ကွင်း၊ ဦးပိုင်အမှတ် (N/၆၂) မြေဧရိယာ (၃. ၅၄) ဧကရှိ လယ - ၃၀ (ခ) ခွင့်ပြုချက်ရရှိပြီးမြေတွင် (၂)ခန်းတွဲ ဘန်ဂလိုအဆောက်အဦ (၁၆)လုံး၊(၈) ခန်းတွဲသံကူကွန်ကရစ် RC (၂)ထပ်အဆောက်အဦ (၁)လုံး၊ စုစုပေါင်း အခန်း (၄၈)ခန်းပါ အဆောက်အဦများအားဆောက်လုပ်၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်လိုပါသဖြင့် ခွင့်ပြုပေးနိုင်ပါရန် လုပ်ငန်းရှင်ဦးဇော်ဝင်း (၁၂/စခန (နိုင်) ၀၂၂၉၃၂) နှင့် ဦးသန်းဝင်းအောင် (၁၂/မကထ (နိုင်) ၀၀၈၈၄၈) တို့ မှ ဟိုတယ်တည်ဆောက်ခွင့် သတ်မှတ်ချက်များအရ ရည်ညွှန်းစာပါ သက်ဆိုင်ရာအထွေထွေအုပ်ချုပ်ရေးဦးစီးဌာနများ၏ သဘောထားမှတ်ချက်များ ရယူဆောင်ရွက်ပြီးဖြစ်ပါကြောင်း တင်ပြလျှောက်ထားလာပါသည်။

၂။ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာနအနေဖြင့် လုပ်ငန်းရှင်၏ တည်ဆောက်ခွင့် လျှောက်ထားလာမှုအပေါ် အဆောက်အဦဆောက်လုပ်မည့်အကွက်ချပုံစံ ( Site Plan )ပါတင်ပြချက်များအရ ဤဝန်ကြီးဌာနမှ ချမှတ်ထားသော (၁ - ၁ - ၂၀၁၅)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅)စည်းကမ်းချက်များနှင့် ကိုက်ညီမှုရှိသဖြင့် ဤရုံးအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်းနှင့် မိမိဝန်ကြီးဌာနသို့ ဆက်လက်တင်ပြနိုင်ရေး အတွက် ဧရာဝတီတိုင်းဒေသကြီး အစိုးရအဖွဲ့မှ ခွင့်ပြုပေးနိုင်ပါရန် ပူးတွဲပါ အထောက်အထား များဖြင့် တင်ပြအပ်ပါသည်။

ပူးတွဲပါ -

လုပ်ငန်းရှင်၏ တင်ပြစာအမှုတွဲ (၁) စုံ

( ဝင်းညွှန့် )
ဒုတိယညွှန်ကြားရေးမှူး

မိတ္တူကို
ဝန်ကြီး၊ စည်ပင်သာယာရေးဝန်ကြီးဌာန၊ ဧရာဝတီတိုင်းဒေသကြီးအစိုးရအဖွဲ့။
ရုံးလက်ခံ / မျှောစာတွဲ။

သို့

ဒုတိယညွှန်ကြားရေးမှူး
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဧရာဝတီတိုင်းဒေသကြီး၊ (ပုသိမ်) ရုံးခွဲ

ရက်စွဲ၊ ၁၀ - ၃ - ၂၀၁၆

အကြောင်းအရာ။ ဟိုတယ်အဆောက်အဦ တည်ဆောက်ခွင့်ပြုပေးနိုင်ပါရန် တင်ပြခြင်း

၁။ ကျွန်တော် လုပ်ငန်းရှင် ဦးဇော်ဝင်း + ဦးသန်းဝင်းအောင် (၂)ဦးတို့မှ ဧရာဝတီတိုင်းဒေသကြီး၊ ငွေဆောင်မြို့ အမှတ် (၃)ရပ်ကွက်၊ မြို့မလမ်း၊ ဦးပိုင်အမှတ် ( N- ၆၂)၊ အကွက် အမှတ် (၁၉၅၆) ကွင်းအမည် (ငဆော်ကွင်း)၊ မြေဧရိယာ (၃.၅၄) ဧကရှိ လ/ယ (၃၀ – ခ) ရရှိပြီးဖြစ်သည့်မြေတွင် (၂)ခန်းတွဲဘန်ဂလိုအဆောက်အဦ (၁၆)လုံး၊ (၈)ခန်းတွဲ သံကူကွန်ကရိ RC (၂) ထပ်အဆောက်အဦ (၁)လုံး၊ စုစုပေါင်းအခန်း ( ၄၈ )ခန်းအား ဟိုတယ်အဆောက်အဦများအဖြစ် အဆင့်မြင့်မြင့် ဆောက်လုပ်၍ ဟိုတယ်လုပ်ငန်းဆောင်ရွက်လိုပါသည်။

၂။ အဆိုပါ ဟိုတယ်အဆောက်အဦများ ဆောက်လုပ်ရာတွင် ဟိုတယ်အခန်းများအား သတ်မှတ်စံနှုန်း အတိုင်းအတာများနှင့်အညီ အခန်းဖွဲ့ဆောင်ရွက်သွားမည်ဖြစ်ပြီး ကမ်းခြေဒေသဆိုင်ရာ လိုက်နာဆောင်ရွက်ရမည့် ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။ သို့ဖြစ်ပါ၍ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန အနေဖြင့် ဟိုတယ်အဆောက်အဦများ တည်ဆောက်လိုမှု အပေါ် ခွင့်ပြုပေးနိုင်ပါရန်နှင့် သတ်မှတ်စည်းမျဉ်း၊ စည်းကမ်းများ နှင့်အညီ ဆောက်လုပ်သွားမည် ဖြစ်ပါကြောင်း ပူးတွဲပါအထောက်အထားများနှင့်အတူ တင်ပြလျှောက်ထား အပ်ပါသည်။

ပူးတွဲပါ –

| | |
|---|---|
| – မြေပိုင်ဆိုင်မှု အထောက်အထား | (၁) စုံ |
| – အဆောက်အဦဆောက်လုပ်မည့် ပုံစံ | (၁) စုံ |
| – အသေးစိတ်တွက်ချက်မှုစာရင်း | (၁) စုံ |
| – ဒေသအုပ်ချုပ်ရေးအဖွဲ့များ၏ စီစစ်ခွင့်ပြုချက်များ | ( ၇ ) စောင် |

(ဦးဇော်ဝင်း)
လုပ်ငန်းရှင်
၁၂/စခန (နိုင်) ၀၂၂၉၃၂

မြို့ နယ် အုပ် ချုပ် ရေး မှူး ရုံး
( အထွေ ထွေ အုပ် ချုပ် ရေး ဦး စီး ဌာန )
ပု သိမ် မြို့ နယ် - ပု သိမ် မြို့
စာအမှတ်၊ ၃ /၃၄ - ၄ / ဦး ၆
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်

သို့

ဒုတိယညွှန်ကြားရေးမှူး
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ပုသိမ်ရုံးခွဲ

**အကြောင်းအရာ။** **ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားခြင်း**

**ရည် ညွှန်း ချက်။** ပုသိမ်မြို့နေ ဦးဇော်ဝင်း၏ ၈ - ၂- ၂၀၁၆ ရက်စွဲပါတင်ပြစာ

၁။ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ မြို့မလမ်း၊ ဦးပိုင်အမှတ်(N -၆၂ )၊ အကွက်အမှတ်(၁၉၈၆) ကွင်းအမည်ငဆော်ကွင်းရှိ လ/ယ(၃၀)(ခ)ခွင့်ပြုချက်ရရှိပြီး ၄င်းပိုင်ဆိုင်သည့် မြေဧရိယာ(၃.၅၄)ဧကေတွင် ဘန်ဂလိုအဆောင်အအုံ (၁၆)လုံးနှင့် (၂)ထပ်ဆောင် အဆောက်အအုံ (၁)လုံး၊ သံကူကွန်ကရိ၊ RC အဆောက်အအုံများ ဆောက်လုပ်ခွင့်ပြုပါရန် သက်ဆိုင်ရာတို့၏ ထောက်ခံချက်များနှင့်အတူ ရည်ညွှန်းစာဖြင့် တင်ပြလျှောက်ထားလာပါသည်။

၂။ သို့ပါ ၍ ဦးဇော်ဝင်း၏ ဟိုတယ်အဆောက်အအုံဆောက်လုပ်ခွင့် တင်ပြလာခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိကြောင်းနှင့် ဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက်ရန် ထောက်ခံပေးပို့ပါသည်။

မြို့နယ်အုပ်ချုပ်ရေးမှူး
(ချစ်ကိုကို၊ ပ/၃၅၇၄)

မိတ္တူ။

လုည့်လည်စာတွဲ
လက်ခံစာတွဲ။

ခရိုင်အုပ်ချုပ်ရေးမှူးရုံး
(အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန)
ပုသိမ်ခရိုင် - ပုသိမ်မြို့
စာအမှတ်၊ ၄/၂၄-၁၂/(၇၉၉)/ဦး၆
ရက်စွဲ၊ ၂၀၁၆ခုနှစ်၊ မေလ ၃၁ ရက်

သို့

✓ဒုတိယညွှန်ကြားရေးမှူး

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့

အကြောင်းအရာ။ **ဟိုတယ်တည်ဆောက်ခွင့်လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ဆောင်ရွက်ပေးနိုင်ပါရန်ကိစ္စ**

ရည်ညွှန်းချက် ။ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီးပုသိမ်ရုံး ၏ (၂၅-၄-၂၀၁၆) ရက်စွဲပါစာအမှတ်၊ ဃ-၄/ပသ/၂၀၁၆(၄၁၃)

၁။ ဧရာဝတီတိုင်းဒေသကြီး၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ မြို့မလမ်း၊ ဦးပိုင်အမှတ်၊ N/၆၂ ကွင်းအမှတ်၊ ၁၉၈၆၊ ကွင်းအမည်၊ ငဆော်ကွင်း၊ လ/ယ ၃၀(ခ) ရရှိပြီးဖြစ်ပြီး မြေဧရိယာ (၃.၅၄) ဧကရှိ မြေတွင်(၂)ခန်းတွဲဘန်ဂလိုအဆောက်အဦ(၁၆)လုံး၊ (၈)ခန်းတွဲသံကူကွန်ကရစ်RC (၂)ထပ်အဆောက်အဦ (၁)လုံး၊ စုစုပေါင်းအခန်း(၄၈)ခန်းအား ဟိုတယ်အဆောက်အအုံများအဖြစ် ဆောက်လုပ်ခွင့်ပြုပါရန် လုပ်ငန်းရှင် ဦးဇော်ဝင်းပါ(၂) ဦးတို့မှ တင်ပြလျှောက်ထားမှုအပေါ် ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန၊ ဧရာဝတီတိုင်းဒေသကြီး ပုသိမ်ရုံးမှ ရည်ညွှန်းပါစာဖြင့် ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ ဦးဇော်ဝင်းပါ (၂) ဦးတို့မှ တင်ပြလျှောက်ထားချက်နှင့်ပတ်သက်၍ သက်ဆိုင်ရာဝန်ကြီးဌာန၏ဥပဒေလုပ်ထုံးလုပ်နည်း၊အမိန့်ညွှန်ကြားချက်များနှင့်အညီစနစ်တကျ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိကြောင်းပြန်ကြားအပ်ပါသည်။

ခရိုင်အုပ်ချုပ်ရေးမှူး
(လှိုင်ထွန်း၊ ပ/၅၃၇၃)

မိတ္တူကို

မျောစာတွဲ

ရုံးလက်ခံ

ရပ်ကွက်အုပ်ချုပ်ရေးမှူးရုံး
စာအမှတ် ..........
ရက်စွဲ ..........
အမှတ်(၃)ရပ်ကွက်၊ ငွေဆောင်မြို့

# ထောက်ခံချက်

မြို့နယ်မြေစာရင်းဦးစီးဌာနမှူး
ပုသိမ်မြို့နယ်၊ ပုသိမ်မြို့

နေ့စွဲ- ၃၀ – ၁၂ –၂၀၁၄

အကြောင်းအရာ။ ။ လယ်ယာမြေ ဥပဒေပုဒ်မ ၃၀(ခ)အရ ဟိုတယ်မြေ လျှောက်ထားခြင်းအား ထောက်ခံချက်။

ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ငွေဆောင်မြို့၊ အမှတ်(၃)ရပ်ကွက်၊ ကွင်းအမှတ်(၁၉၈၆)၊ ငဆော်ကွင်း၊ ဦးပိုင်အမှတ်(N-၆၂)၊ မြေဧရိယာ(၃.၅၇)ဧကရှိ ဥယျာဉ်မြေသည် ဦးဇော်ဝင်း နိုင်ငံသားစိစစ်ရေးကတ်အမှတ် ၁၂/စခန(နိုင်)၀၂၂၉၃၂ ကိုင်ဆောင်သူပါ(၂) ပိုင်ဆိုင်သော မြေဖြစ်ပြီး မြေယာအရှုပ်အရှင်းမရှိသဖြင့် ယင်းမြေနေရာအား ဟိုတယ်ဆောက်လုပ်ရန် လယ်ယာမြေဥပဒေပုဒ်မ–၃၀(ခ) အရအခြားနည်းအသုံးပြုခွင့်လျှောက်ထားခြင်းအား သက်ဆိုင်ရာမှ ခွင့်ပြုနိုင်ရေးအတွက် ငွေဆောင်မြို့ အမှတ်(၃)ရပ်ကွက် အုပ်ချုပ်ရေးမှူးအနေဖြင့် မှန်ကန်ကြောင်းစိစစ်တွေ့ရှိရပါသဖြင့် ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

အုပ်ချုပ်ရေးမှူး
အမှတ်(၃)ရပ်ကွက်
ငွေဆောင်မြို့

မိတ္တူကို–
– ရုံးလက်ခံ။

# ငွေဆောင်ဆန္ဒပြပွဲ



**ရည်ညွှန်းချက်**

- မတရားသဖြင့် သိမ်းဆည်းခံ နစ်နာခဲ့ရသည့် အုန်းခြံမြေများကို ရည်ညွှန်းသည်။
- ငွေဆောင်မြို့ Plan တွင် ပါဝင်သော ကမ်းခြေဆင်းလမ်းများကို ရည်ညွှန်းသည်။

**ရည်ရွယ်ချက်**

- ဥပဒေ၏ အကာအကွယ်ရရန် ရည်ရွယ်သည်။